




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ်-ဧရာ-၀၁၆/၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဧပြီ လ ၂၀ ရက်

ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးဇော်သန်းဦး

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်(အိုင်-၃အေ)၊ သဇင်လမ်း၊ ရွှေသံလွင်၊ ပန်းလှိုင်အိမ်ရာ၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ NGWE LWIN PYIN COMPANY LIMITED အမှတ်(အိုင်-၃အေ)၊ သဇင်လမ်း၊ ရွှေသံလွင်၊ ပန်းလှိုင်အိမ်ရာ၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဟိုတယ်နှင့် အပန်းဖြေစခန်းများ တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ချောင်းသာကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၉၈၉ ပြင်၊ ကံကြီးအပြင်ကွင်း၊ ဦးပိုင်အမှတ် N-၁၂ ရှိမြေ ၇.၂၉ ဧက

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၁၁၄၉.၈၉ သန်း

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၁ နှစ်

(၁၂) အတည်ပြုမိန့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် NGWE LWIN PYIN COMPANY LIMITED (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်)



ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

OSS စုပေါင်းရုံး၊ မြက်တို၊ ပုသိမ်မြို့

စာအမှတ်၊ ရေက/အ-၀၁၈/ဟိုတယ်/၂၀၁၈(၁/၇-၈)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၃၀ ရက်

အကြောင်းအရာ။ **Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) မှ ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်နှင့် အပန်းဖြေ စခန်းများ တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်း လုပ်ငန်း အတည်ပြုမိန့်အပေါ် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Ngwe Lwin Pyin Company Limited ၏ ၂၉-၃-၂၀၁၈ ရက်စွဲပါ တင်ပြစာ

၁။ Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ချောင်းသာကျေးရွာအုပ်စု၊ ကွင်းအမှတ် ၁၉၈၉ ပြင်၊ ကံကြီးအပြင်ကွင်း၊ ဦးပိုင်အမှတ် N-၁၂ ရှိမြေ ၇.၂၉ ဧကတွင် ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်နှင့်အပန်းဖြေစခန်းများ တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာ တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၇ ရက်နေ့ တွင် ကျင်းပပြုလုပ်သော ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ (၂/၂၀၁၈) ကြိမ် မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) အား ဟိုတယ်နှင့် အပန်းဖြေ စခန်းများ တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့် အမှတ်၊ ဧရာ-၀၁၆/၂၀၁၈ ကိုထုတ်ပေးလိုက်သည်။

၂။ Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) အနေဖြင့် ဤ အတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာ ဆောင်ရွက်ရမည်-

(က) Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဟိုတယ်နှင့် အပန်းဖြေစခန်းများ တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်း တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ

ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များ နှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအတည်ပြုလျှောက်ထားလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်း ဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့်ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရား များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) အနေဖြင့် ရင်းနှီးမြှုပ်နှံမှုပုံစံကို ပြောင်းလဲခြင်းကြောင့် ခွင့်ပြုမိန့် ရယူရန်လိုအပ်သည့် ရင်းနှီးမြှုပ် နှံမှုဆိုင်ရာသတ်မှတ်ချက်များနှင့် အကျုံးဝင်သွား ပါက ယင်းပြောင်းလဲမှု မဆောင်ရွက်မီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၉ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည်။

(င) Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန် ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလ အတွင်း အခြားပုဂ္ဂိုလ် တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ် များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအားသတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဓ) Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ် အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်) သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရဖြစ်စေ၊ အခြား လိုအပ်ချက်အရဖြစ်စေ သက် ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်း များမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်း ခြင်း စာချုပ်ချုပ် ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန ၏ သတ်မှတ်ချက်များ နှင့်အညီ ဆောင်ရွက် ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(လှမိုးအောင်)
ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

Ngwe Lwin Pyin Company Limited (ငွေလွင်ပြင်ကုမ္ပဏီလီမိတက်)
ဖြန့်ဝေခြင်း
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန